ပူးတွဲ (၂)

# လုပ်ငန်းစီမံကိန်းဖော်ပြချက်

**ပထမအဆင့်စီမံကိန်း**

၁။ ဒီဇယ်ဆီသိုလှောင်ကန် (၁.၉၈ သန်း ဂါလံဆန့်) (၁)လုံး ၊ (၁.၃၂ သန်း ဂါလံဆန့်) (၁)လုံး ၊ ဓါတ်ဆီသိုလှောင်ကန် (၁.၃၂ သန်း ဂါလံဆန့်) (၂)လုံး တို့ကို တည်ဆောက်ပါမည်။

၂။ အဆောက်အဦးစာရင်း

| | W x L x H (m) | |
|---|---|---|
| (1) Office Building | (36 x 9 x 5.3) | (၁)လုံး |
| (2) Laboratory & Control Room | (28 x 9 x 5.3) | (၁)လုံး |
| (3) Maintenance Shop | (18 x 9 x 5.3) | (၁)လုံး |
| (4) Receiving Office | (28 x 9 x 5.2) | (၁)လုံး |
| (5) Loading Building | (10 x 75 x 8.50) | (၁)လုံး |
| (6) Office Guard House | (3 x 4.855 x 3.10) | (၁)လုံး |
| (7) Receiving Shelter | (19.5 x 10 x 8.5) | (၁)လုံး |
| (8) Driver Pavilion | (12 x 8.5 x 4) | (၁)လုံး |
| (9) Highway Entrance Guard House | (3 x 4.855 x 3.1) | (၁)လုံး |
| (10) Example of Store Building | (6 x 4 x 4.5) | (၁)လုံး |
| (11) Fire Water Storage Ground Tank & Pump Room | (65 x 25 x 4) | (၁)လုံး |
| (12) Oil Pump Room (3) Nos | (7.5 x 36 x 4) | (၃)လုံး |
| (13) Substation | (25 x 10 x 4) | (၁)လုံး |
| (14) Loading Station Toilet | (7 x 7.5 x 4) | (၁)လုံး |
| (15) Early Rain Water Storage Tank | (25 x 25 x 4) | (၁)လုံး |
| (16) Oil Waste Water Treatment Plant | (60 x 25 x 4) | (၁)လုံး |

၃။ ပထမအဆင့်စီမံကိန်းတွင် ဆောင်ရွက်မည့် လုပ်ငန်းများအတွက် လိုအပ်သော စက်ယာဉ်ယန္တရား ပစ္စည်းကိရိယာများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားသည့် စီမံကိန်းအဆိုပြုလွှာ ပါအသေးစိတ်စာရင်းအတိုင်း တင်သွင်းသွားမည် ဖြစ်ပါသည်။

ဒုတိယအဆင့်စီမံကိန်း

၁။ ဒီဇယ်ဆီသိုလှောင်ကန် (၁.၉၈ သန်း ဂါလံဆန့်) (၂)လုံး တို့ကို တည်ဆောက်ပါမည်။

၂။ စက်သုံးဆီအတင်/အချဆိပ်ခံတံတား

(က) ပင်မဆိပ်ခံတံတား အလျား(၁၃၃ မီတာ) ၊ အကျယ်(၁၉.၅ မီတာ) (၁)စင်း နှင့် ဆက်စပ် လုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ပါသည် ။

(ခ) ဆိပ်ခံတံတားရှေ့ရေဒေသတွင် လုံလောက်သောရေအနက်ရရှိအောင် ဆောင်ရွက်ပါမည်။

၃။ ဒုတိယအဆင့်စီမံကိန်းတွင် ဆောင်ရွက်မည့် လုပ်ငန်းများအတွက် လိုအပ်သော စက်ယာဥ်ယန္တရား ပစ္စည်းကိရိယာများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားသည့် စီမံကိန်းအဆိုပြုလွှာ ပါအသေးစိတ်စာရင်းအတိုင်း တင်သွင်းသွားမည် ဖြစ်ပါသည်။

တတိယအဆင့်စီမံကိန်း

၁။ ကျန်ရှိသော ဒီဇယ်ဆီ သိုလှောင်ကန် (၁.၉၈ သန်း ဂါလံဆန့်) (၂)လုံး နှင့် ဓါတ်ဆီသိုလှောင်ကန် (၁.၃၂ သန်း ဂါလံဆန့်) (၂)လုံး တို့ကို တည်ဆောက်ပါမည်။

၂။ တတိယအဆင့်စီမံကိန်းတွင် ဆောင်ရွက်မည့် လုပ်ငန်းများအတွက် လိုအပ်သောစက်ယာဥ်ယန္တရား ပစ္စည်းကိရိယာများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားသည့် စီမံကိန်းအဆိုပြုလွှာ ပါအသေးစိတ်စာရင်းအတိုင်း တင်သွင်းသွားမည် ဖြစ်ပါသည်။

# စီမံကိန်းအတွက် ရင်းနှီးမြှုပ်နှံမှုခန့်မှန်းကုန်ကျစရိတ်

| စဉ် | အမျိုးအမည် | ကိုယ်ပိုင်(သန်းပေါင်း) | | ချေးငွေ(သန်းပေါင်း) | | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|---|---|---|
| | | ကျပ် | US$ | ကျပ် | US$ | |
| ၁ | လည်ပတ်ငွေ | 23,017.04 | 6.627 | - | 2.991 | 31,384.70 |
| | (i) Land Use Premium | 370.65 | - | - | - | 370.65 |
| | (ii) Architectural and Structural Design Fees | - | 0.496 | - | - | 431.52 |
| | (iii) Labour Cost | 22,646.39 | 0.992 | - | - | 23,509.43 |
| | (iv) Others | - | 5.139 | - | 2.991 | 7,073.10 |
| ၂ | စက်ယာဉ်ယန္တရားပစ္စည်းကိရိယာများ စာရင်း | 1,634.42 | 7.434 | 903.13 | 17.381 | 24,126.60 |
| | (i) Machinery | - | - | - | 6.417 | 5,582.79 |
| | (ii) Piling Work of Oil Tank | 1,078.38 | 1.334 | - | 0.764 | 2,903.64 |
| | (iii) External Work | 556.04 | 0.060 | 903.13 | 0.423 | 1,879.38 |
| | (iv) Mechanical Work | - | - | - | 0.087 | 75.69 |
| | (v) Electrical Work | - | 0.108 | - | 2.338 | 2,128.02 |
| | (vi) Petrochemical Work | - | 5.048 | - | 4.379 | 8,201.49 |
| | (vii) Sanitary & Fire Protection Work | - | 0.884 | - | 2.973 | 3,355.59 |
| ၃ | အဆောက်အဦးများစာရင်း | 1,140.81 | - | - | 0.284 | 1,387.89 |
| ၄ | ရုံးသုံးပရိဘောဂများစာရင်း | - | - | - | 0.145 | 126.15 |
| ၅ | ဆိပ်ခံတံတားနှင့်ဆက်စပ်လုပ်ငန်းများ စာရင်း | 2,619.80 | 1.600 | - | - | 4,011.80 |
| | စုစုပေါင်း | 28,412.07 | 15.661 | 903.13 | 20.801 | 61,037.14 |

မှတ်ချက် ။ ။ (5.9.2012) Market Exchange Rate - 1 US$ = 870 Kyats

MYANMA FOREIGN TRADE BANK

YANGON, MYANMAR

**LETTER OF GUARANTEE**

DATED : - - 2013

NO : ....................

TO

MYANMA PORT AUTHORITY
YANGON, MYANMAR

**PERFORMANCE BANK GUARANTEE NO.** .......................

In consideration of your having concluded the contract for the construction, operation and management of **Denko Petrochemical Management Project** in Thilawa Port dated ............ with **Denko Petrochemical Management Co., Ltd.** for the development of an Oil terminal at Thilawa Port area and it being a condition of the contract that a performance guarantee of one percent (1%) of the estimated investment cost in United States Dollars be established, we (Myanma Foreign Trade Bank) hereby irrevocably and unconditionally guarantee to pay you without delay on your first written demand through Myanma Foreign Trade Bank any amount claimed by you up to the extent of (Bank Guarantee Amount) against your written declaration that **Denko Petrochemical Management Co., Ltd.** has refuses or failed to execute or perform any of the material terms and conditions of the aforesaid contract including that the activities pertinent to the construction of Oil Terminal under **Denko Petrochemical Management Project** shall be operation within 2 (two) years from the date of signing of the Contracts.

This guarantee shall remain valid until 2 (two) years after the date of signing of the Contract.

Signature : ...................

Designation : ................

Bank :.........................

ပုံစံ (၇)

................................................ BANK

YANGON, MYANMAR

**LETTER OF GUARANTEE**

DATED : - - 2013

REF NO : ...................

TO

MYANMA PORT AUTHORITY
YANGON, MYANMAR

**PERFORMANCE BANK GUARANTEE NO.** ......................

In consideration of your having concluded the contract for the construction, operation and management of **Denko Petrochemical Management Project** in Thilawa Port dated ............ with **Denko Petrochemical Management Co., Ltd.** for the development of an Oil terminal at Thilawa Port area and it being a condition of the contract that a performance guarantee of one percent (1%) of the estimated investment cost in Myanmar Kyats be established, we (......................) hereby irrevocably and unconditionally guarantee to pay you without delay on your first written demand through (....................) any amount claimed by you up to the extent of (Bank Guarantee Amount) against your written declaration that **Denko Petrochemical Management Co., Ltd.** has refuses or failed to execute or perform any of the material terms and conditions of the aforesaid contract including that the activities pertinent to the construction of Oil Terminal under **Denko Petrochemical Management Project** shall be operation within 2 (two) years from the date of signing of the Contracts.

This guarantee shall remain valid until 2 (two) years after the date of signing of the Contract.

Signature : ..................

Designation : ................

Bank :........................

ပို့ဆောင်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

Denko Petrochemical Management Co., Ltd.

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊

သီလဝါဆိပ်ကမ်းဒေသတွင်

စက်သုံးဆီတင်/ချ ဆိပ်ခံတံတား နှင့် စက်သုံးဆီ

သိုလှောင်ဖြန့်ဖြူးရေး အဆောက်အအုံများ တည်ဆောက်ပြီး

ဝန်ဆောင်မှုလုပ်ငန်းကို B.O.T စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

မြေငှားစာချုပ်




ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသတွင်
စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရေး အဆောက်အအုံများ
တည်ဆောက်ပြီး B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်နှင့် လွှဲပြောင်းရန်အတွက်
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Denko Petrochemical Management Co., Ltd
တို့အကြား ချုပ်ဆိုသည့်

# မြေငှားစာချုပ်

ဤ မြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ (၂၈) ရက်နေ့၌

**ဦးကျော်မြင့်**၊ ဦးဆောင်ညွှန်ကြားရေးမှူးကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ **မြန်မာ့ဆိပ်ကမ်းအာဏာပိုင်** (ဤမှ နောင်တွင် **"မြေငှားရမ်းသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ၎င်း၏ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

နှင့်

**ဦးချစ်ခိုင်**၊ ဥက္ကဋ္ဌ၊ နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၊ ၁၂/အစန(နိုင်) ၀၇၈၂၆၃ ကိုယ်စားပြုသော ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ ဘုရင့်နောင်လမ်းမကြီး၊ ရွှေပုန်းညက်ရိပ်မွန်၊ အမှတ် (၁၉) တွင်ရှိ **Denko Petrochemical Management Co., Ltd** (ဤမှနောင်တွင် **"မြေငှားချထားခြင်းခံရသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင်စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏တရားရင်ကိုယ်စားလှယ်များ၊




ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟုမှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆို ကြပါသည်။

(က) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ" ကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့် ရှိကြောင်း ကိုယ်စားပြု အာမခံချက်ပေးသဖြင့် လည်းကောင်း၊

(ခ) "မြေငှားရမ်းသူ" က ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ ပူးတွဲ(၁)တွင် အနီရောင်ဖြင့် ဘောင်ခတ်ထားသော မြေကွက်အမှတ် (၁၇၊၁၈)(B)ဧရိယာ(၂၄. ၇၁)ဧက အကျယ်အဝန်းရှိ မြေနေရာ (နောင်တွင် "ငှားရမ်းသည့်မြေ" ဟု ရည်ညွှန်းခေါ်ဆိုရမည်) ကို ငှားရမ်းလိုသော ဆန္ဒရှိပြီး၊ "မြေငှားချထားခြင်းခံရသူ" က အောက်တွင် ဆက်လက်ဖော်ပြမည့် စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ "ငှားရမ်းသည့်မြေ" တွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အအုံများ (နောင်တွင် **"Denko ရေနံဓါတုပေဒစီမံခန့်ခွဲမှုစီမံကိန်း"** ဟု ရည်ညွှန်းခေါ်ဆိုမည်)ကို တည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် အငှားရယူလိုသဖြင့်လည်းကောင်း၊

ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည်-

၁။ အောက်ဖော်ပြပါအတိုင်း မြေအသုံးချမှုပရီမီယံကြေးနှင့် မြေငှားခကိုပေးချေရန် သဘောတူညီချက်ကိုထောက်ထား၍ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်းခံရသူ" သို့ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်၏ အပိုဒ်(၁၀) ပါ တည်ဆောက်ရေး ကာလစေ့ရောက်သည့်နေ့ (သို့မဟုတ်) တရားဝင်ဖွင့်လှစ်ခြင်း (Grand Opening) ပြုလုပ်သည့်




နေ့၊ ထိုနေ့နှစ်ရပ်အနက် စောရာကာလမှ နှစ်ပေါင်း ၃၀ (သုံးဆယ်)နှစ်ခွင့်ပြုရန် သဘောတူညီသည်။

(က) မြေအသုံးချမှုပရီမီယံ။ "ငှားရမ်းသည့်မြေ"ကို မြေငှားစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ အငှားချထားမှုအတွက် မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ငွေကျပ်(၁၅၀)သိန်းနှုန်းဖြင့် စုစုပေါင်းငွေကျပ် ၃၇၀,၆၅၀,၀၀၀/ (ငွေကျပ် သုံးရာခုနှစ်ဆယ်သန်း ခြောက်သိန်း ငါးသောင်းတိတိ) ကို "မြေငှားချထားခြင်းခံရသူ" က "မြေငှားရမ်းသူ" ထံ အောက်ပါအတိုင်း ပေးသွင်းရမည်-

(၁) စာချုပ်လက်မှတ်ရေးထိုးပြီး ၁(တစ်)လအတွင်း ငွေကျပ် ၁၈၅,၃၂၅,၀၀၀/- (ကျပ် တစ်ရာရှစ်ဆယ့်ငါးသန်း သုံးသိန်းနှစ်သောင်းငါးထောင်တိတိ) ကို ပထမအရစ်အဖြစ် ပေးသွင်းရန်၊

(၂) စာချုပ်လက်မှတ်ရေးထိုးပြီး ၁၂ (တစ်ဆယ့်နှစ်) လ အတွင်း ငွေကျပ် ၁၈၅,၃၂၅,၀၀၀/-(ကျပ် တစ်ရာရှစ်ဆယ့်ငါးသန်းသုံးသိန်း နှစ်သောင်းငါးထောင် တိတိ) ကို ဒုတိယရစ်အဖြစ် ပေးသွင်းရန်၊

(ခ) မြေငှားခများ။ "မြေငှားချထားခြင်းခံရသူ" သည် စက်သုံးဆီတင်/ချကွန်ကရစ်ဆိပ်ခံတံတားနှင့် အထောက်အကူပြု အဆောက်အအုံများကို တည်ဆောက်ပြီးသည်နှင့် လုပ်ငန်းများလုပ်ကိုင်ခွင့်အတွက် အောက်တွင်ဖော်ပြထားသောနှုန်းထားများအတိုင်း လစဉ်မြေငှားရမ်းခအဖြစ် ငွေကျပ် ၁၅,၀၄၃,၂၄၃/- (ကျပ် တစ်ဆယ့်ငါးသန်း လေးသောင်းသုံးထောင် နှစ်ရာလေးဆယ့်သုံးတိတိ) ကို အင်္ဂလိပ်လဆန်း ၇(ခုနှစ်)ရက်မတိုင်မီ "မြေငှားရမ်းသူ" သို့ပေးသွင်းရမည်။




ပထမလအတွက် မြေငှားရမ်းခ စတင်ပေးဆောင်ရမည့်အစီအစဉ်ကို နှစ်ဦးနှစ်ဖက်ညှိနှိုင်းသတ်မှတ်ရမည်။ ပေးဆောင်ရမည့်မြေငှားရမ်းခကို ကုမ္ပဏီမှ ၁၂-၆-၂၀၁၁ ရက်နေ့အစည်းအဝေးတွင် တင်ပြထားသော စက်သုံးဆီများ တင်/ချ သိုလှောင်ခြင်း၊ ဖြန့်ဖြူးခြင်းလုပ်ငန်းများ စတင်ဆောင်ရွက်ရန်လျာထားသည့် (၁-၁-၂၀၁၃) ရက်နေ့မှ စတင်ပေးချေရမည်-

(၁) စက်သုံးဆီတင်ဆိပ်ခံတံတားအတွက် =ကျပ် ၁,၆၈၆,၄၈၆/-
မြေငှားရမ်းခ(၃. ၀၂ ဧကx ၅၄၀၅၄၀. ၅၄)

(၂) ကျောထောက်နောက်ခံမြေနေရာအတွက် =ကျပ် ၁၃,၃၅၆,၇၅၇/-
မြေငှားရမ်းခ(၂၄. ၇၁ ဧကx ၅၄၀၅၄၀. ၅၄)

ရရပေါင်းကျသင့်ငွေ =ကျပ် ၁၅,၀၄၃,၂၄၃/-

၂။ ဤမြေငှားစာချုပ်သည် မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်အကျိုးသက်ရောက်စေရမည်။

၃။ "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" ထံသို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည်-

(က) "ငှားရမ်းသည့်မြေ" အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ယင်းဆင့်အငှားချထားခြင်း၊ ပေါင်နှံခြင်းမပြုရန်၊

(ခ) တည်ဆောက်မည့် ဆိပ်ခံတံတားနှင့် စက်ကရိယာများအတွက် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံမည့် ကုန်ကျစရိတ်အားလုံးကိုကျခံရန်၊




(ဂ) “ငှားရမ်းသည့်မြေ” ဓနရာသို့ “မြေငှားရမ်းသူ” ၏ [illegible] ခံရသူများအား ၎င်းတို့၏ လုပ်ငန်းတာဝန်များကို လုပ်ဆောင်ရန်အလို့ငှာ ဝင်ရောက်ခွင့်ပြုရန်၊

(ဃ) “ငှားရမ်းသည့်မြေ”(သို့မဟုတ်)၎င်း၏ အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများ အားလုံးသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများနှင့် အညီအညွတ်ဖြစ်ရန်၊

(င) “ငှားရမ်းသည့်မြေ” (သို့မဟုတ်) ၎င်း၏ အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် လျှပ်စစ်မီး၊ ရေနှင့် ဆည်မြောင်းသာယာခွန်များအားလုံးကို ပေးချေရန်၊

၄။ “မြေငှားရမ်းသူ” သည် “မြေငှားချထားခြင်းခံရသူ” သို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည်-

(က) “မြေငှားရမ်းသူ” သည် “ငှားရမ်းသည့်မြေ” အား လက်ရောက် ပေးအပ်ငှားရမ်းရမည်၊

(ခ) “မြေငှားချထားခြင်းခံရသူ” သည် “ငှားရမ်းသည့်မြေ” သို့ ရည်မှန်းထားသည့် လုပ်ငန်းတာဝန်နှင့် ဆင့်ပြိုင်လျော်ကန်သော အသုံးအဆောင်များ ဆောက်လုပ်ရန်အတွက် ငြိမ်းချမ်းစွာနှင့် အေးငြိမ်းစွာ ဝင်ရောက်နိုင်ခွင့်ပြုရမည်။ သို့ရာတွင် ၎င်းအသုံးအဆောင်များ၏ ဒီဇိုင်းများကို “မြေငှားရမ်းသူ” ၏ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ခွင့်ပြုရမည်၊

(ဂ) “မြေငှားချထားခြင်းခံရသူ” သည် မြေငှားစာချုပ် သက်တမ်းကာလအတွင်း မည်သည့်အနှောက်အယှက်၊ အဟန့်အတားမှုမရှိဘဲ၊ “မြေငှားရမ်းသူ”၏ ယုံမှတ်




အပ်နှံခံရသူအနေဖြင့် "ငှားရမ်းသည့်မြေ" ကို ငြိမ်သက်စွာ လက်ဝယ် ရယူထား နိုင်ခွင့်ရှိစေရမည်၊

(ဃ) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ"အတွက် မြေခွန်ကို ပေးဆောင်ရမည်၊

၅။ "မြေငှားချထားခြင်းခံရသူ" သည် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက်လာသော တံဆိပ်ခေါင်းခွန်ကို ပေးချေရန်အတွက်လည်းကောင်း၊ မြေငှားစာချုပ်၏ ရည်ရွယ်ချက်ကို အကောင်အထည်ဖော်ခြင်း၊ အဆောက်အအုံများ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်းတို့ကြောင့် ပေါ်ပေါက်လာသော အခွန်အခများကို ပေးချေရန်အတွက် လည်းကောင်း တာဝန်ရှိသည်။

၆။ "မြေငှားချထားခြင်းခံရသူ"သည် "မြေငှားရမ်းသူ"၏ တရားဝင်စာဖြင့် ခွင့်ပြုချက်မရရှိဘဲ ဤမြေငှားစာချုပ်၏ ရည်ရွယ်ချက်တစ်စုံတစ်ရာကိုပြောင်းလဲခြင်း (သို့မဟုတ်) တည်ဆောက်ထားသော အဆောက်အအုံများကို ပြုပြင်ပြောင်းလဲခြင်းမပြုရန် သဘောတူပါသည်။

၇။ "မြေငှားချထားခြင်းခံရသူ" သည် ငှားရမ်းမြေပေါ်တွင်တူးဖော်ခြင်း(သို့မဟုတ်) ဖောက်ခွဲခြင်းလုပ်ငန်းပြုလုပ်စဉ် အရေးကြီးသော မည်သည့်တွေ့ရှိမှုကိုမဆို "မြေငှားရမ်းသူ"ထံ ချက်ချင်း အကြောင်းကြားရမည်။ အရေးကြီးသောပစ္စည်းများတွေ့ရှိမှုဆိုရာတွင် မြေတူးစဉ်နှင့် ဖောက်ခွဲမှုပြုလုပ်စဉ် တွေ့ရှိရသော အနုပညာ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသမိုင်း၊ ဒင်္ဂါးများနှင့် သိပ္ပံဆိုင်ရာအရေးပါသောအရာဝတ္ထုများ၊ ရှားပါးပြီးတန်ဖိုးရှိသောပစ္စည်းများနှင့် သဘာဝသယံဇာတ အရင်းအမြစ်များပါဝင်ပြီး အဆိုပါပစ္စည်းများသည် နိုင်ငံပိုင်ပစ္စည်းများဖြစ်ပြီး ၎င်း၏သဘော အတိုင်း ဆောင်ရွက်နိုင်ခွင့်ရှိသည်။

"မြေငှားရမ်းသူ" သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာတူးဖော်ရယူခွင့်ရှိစေရမည်။




၈။ "မြေငှားချထားခြင်းခံရသူ" သည် ဆောက်လုပ်ထားသော အဆောက်အအုံများနှင့် ၎င်းတို့၏ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုတို့မှ ကာကွယ်ရန်အတွက် လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို ၎င်း၏စရိတ်ဖြင့် ကျခံဆောင်ရွက်ရမည်။ ထို့အပြင် **"မြေငှားချထားခြင်းခံရသူ"** အနေဖြင့် **"ငှားရမ်းသည့်မြေ"** (သို့မဟုတ်) ၎င်း၏ အစိတ်အပိုင်းပေါ်တွင် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေး တောင်းဆိုမှုကိုမဆို **"မြေငှားရမ်းသူ"** အပေါ်တွင် တာဝန်မရှိစေရ။

၉။ **"မြေငှားချထားခြင်းခံရသူ"** သည် ဤမြေငှားစာချုပ်၏ စည်းမျဉ်းစည်းကမ်းများကို လိုက်နာရန်ပျက်ကွက်ပါက၊ ထိုသို့ပျက်ကွက်မှုအတွက် **"မြေငှားရမ်းသူ"** က ထုတ်ပြန်သော အကြောင်းကြားစာရပြီးရက်ပေါင်း ၃၀(သုံးဆယ်)အတွင်း ပျက်ကွက်မှုကိုပြန်လည်၍ မှန်အောင်ပြင်ဆင်ခြင်းမပြုလျှင်၊ **"မြေငှားရမ်းသူ"** သည် ဤမြေငှားစာချုပ်ပါ **"ငှားရမ်းသည့်မြေ"** အပေါ် ပြန်လည်ဝင်ရောက်ခွင့်၊ မြေအားလုံးကို ပြန်လည်သိမ်းယူခွင့်ရှိသည်။ ထိုသို့ သိမ်းယူချိန်မှစ၍ မြေငှားရမ်းမှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ ရပ်စဲ၊ အဆုံးသတ်ပြီးဖြစ်ရမည်။ မြေသို့ပြန်လည်ဝင်ရောက်သည့် အခွင့်အရေးများသည် ဤမြေငှားစာချုပ်ပါ **"မြေငှားရမ်းသူ"** က **"မြေငှားချထားခြင်းခံရသူ"** ထံမှ ရရှိမည့်အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

၁၀။ (က) ဤမြေငှားစာချုပ် သက်တမ်းကာလအတွင်း မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် **"မြေငှားချထားခြင်းခံရသူ"**သည် **"မြေငှားရမ်းသူ"** သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့သည့်ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေလျှင်ဘေးစသည်များအပြင်၊ နိုင်ငံတော်အစိုးရ၏




ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်းစသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များကို ဆိုလိုသည်၊

(ခ) ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ(၁၄)ရက်အတွင်း "မြေငှားချထားခြင်းခံရသူ" သည် "မြေငှားရမ်းသူ" သို့ ချက်ချင်းစာဖြင့် ရေးသားအကြောင်းကြားရမည်။ "မြေငှားရမ်းသူ" က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး၊ မြေအသုံးချခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလအပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၁၁။ ဤသဘောတူစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှု တစ်စုံတစ်ရာပေါ်ပေါက်ပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ဆုံးဖြတ်ချက်ကို ခံယူရမည်။

၁၂။ ဤမြေငှားစာချုပ်တွင် မူလက မမျှော်မှန်းထားသော အခြေအနေတစ်ရပ်ရပ် (သို့မဟုတ်) အနေအထား တစ်ရပ်ရပ်ဖြစ်ပေါ်လာပါ၍ ဤမြေငှားစာချုပ်ကို ပြင်ဆင်ရန် (သို့မဟုတ်) ပြောင်းလဲရန်ပေါ်ပေါက်လာသည့်အခါ နှစ်ဖက်စာချုပ်ဝင်တို့သည် သင့်လျော်သည့်ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

၁၃။ ဤမြေငှားစာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည်-

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) မြေငှားစာချုပ်ဝင်တစ်ဖက်ဖက်မှစာချုပ်ပါတာဝန်များဆောင်ရွက်ရန်ပျက်ကွက်ခြင်း၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းလည်းမပြုနိုင်သော မလွန်ဆန်နိုင်သော ဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် မြေငှားစာချုပ်ကို ရပ်စဲခြင်း၊

၁၄။ ဤမြေငှားစာချုပ်တွင် မျှော်မှန်းမထားသောအခြေအနေများ ပေါ်ပေါက်လာခြင်းကြောင့် မြေငှားစာချုပ်ကို ပြင်ဆင်ရန်လိုအပ်ပါက မြေငှားစာချုပ်ဝင်များသည် နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညှိနှိုင်းကြပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ သဘောတူညီချက်ရယူပြီးနောက် စာဖြင့်ရေးသား၍ ပြင်ဆင်ရမည်။ ထို့သို့ပြင်ဆင်ချက်များကို ဤမြေငှားစာချုပ်၏ အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်သည့်ဟု မှတ်ယူရမည်။

၁၅။ မြေငှားစာချုပ်ဝင် တစ်ဦးတစ်ဖက်စီက အခြားတစ်ဦးတစ်ဖက်အား ၎င်းသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရဖွဲ့စည်း၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတွင် ဤမြေငှားစာချုပ်ကိုချုပ်ဆိုရန် အလို့ငှာ လုပ်ပိုင်ခွင့်၊ အာဏာ၊ ခိုင်မာသော ဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက်ပေးပါသည်။

၁၆။ ဤမြေငှားစာချုပ်ကို ဆောင်ရွက်ရန်နှင့် အကောင်အထည်ဖော်ရန် အလို့ငှာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ သက်ဆိုင်ရာ အစိုးရအာဏာပိုင်များထံမှ လိုအပ်သော သဘောတူခွင့်ပြုချက်များ ရရှိမှုပေါ်မူတည်သည်။




၁၇။ ဤမြေငှားစာချုပ်ဝင်များသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းများ၊ ညွှန်ကြားချက်များ၊ ကျင့်ထုံးများနှင့်အညီ ဤမြေငှားစာချုပ်ကြောင့် ဖြစ်ပေါ်လာသော ဆောင်ရွက်ရန်တာဝန်များကို အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၈။ ဤမြေငှားစာချုပ်သည် ဤစာချုပ် အပိုဒ်(၁) တွင် ဖော်ပြထားသည့်နေ့မှ နှစ်ပေါင်း ၃၀ (သုံးဆယ်) နှစ် စေ့ရောက်ချိန်တွင် သက်တမ်းကုန်ဆုံးမည်ဖြစ်သည်။

၁၉။ ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက်တွင် ဆက်လက် မြေငှားရမ်းမည်ဆိုပါက မြေငှားစာချုပ်သက်တမ်းမကုန်ဆုံးမီ ၆ (ခြောက်) လ အတွင်း ကြိုတင်ညှိနှိုင်း၍ မြေငှားစာချုပ် သက်တမ်းတိုးမြှင့်ပေးရေးဆိုင်ရာ စည်းမျဉ်းစည်းကမ်း၊ နှုန်းထားများနှင့်အညီ မြေငှားစာချုပ် သက်တမ်းတိုးရန်ဖြစ်သည်။

၂၀။ ဤမြေငှားစာချုပ် သက်တမ်းတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တစ်ဆင့် အစိုးရအဖွဲ့သို့ တင်ပြအတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

၂၁။ ဤမြေငှားစာချုပ် သက်တမ်းကုန်ဆုံးချိန် (သို့မဟုတ်) ရပ်စဲချိန်တွင် တပ်ဆင်ထားသော စက်ကိရိယာများ အပါအဝင် "မြေငှားချထားခြင်းခံရသူ"က ဆောက်လုပ်ထားသည့် အဆောက်အဦများကို ကောင်းမွန်စွာ ထိန်းသိမ်းထားသော အနေအထားအတိုင်း အဖိုးစားနားမပါဘဲ "မြေငှားရမ်းသူ" ပိုင် ပစ္စည်းအဖြစ် လွှဲပြောင်းပေးရမည်။ အကယ်၍ "မြေငှားရမ်းသူ" မှ ၎င်းအဆောက်အဦများ အားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း လက်ခံရန်ဆန္ဒမရှိလျှင် ထိုသို့လက်ခံနိုင်ခြင်းမရှိကြောင်း ညွှန်ကြားသည့် အဆောက်အဦများကို "မြေငှားချထားခြင်းခံရသူ" မှ ကုန်ကျစရိတ်ကျခံ၍ လုံးဝဖယ်ရှားပေးရမည်။

မြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
033454 SPECIAL ADHESIVE

မြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
033464 SPECIAL ADHESIVE

မြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
033460 SPECIAL ADHESIVE

မြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
033470 SPECIAL ADHESIVE

မြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
033480 SPECIAL ADHESIVE

မြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE

မြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀ကျပ် K 5000

မြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀ကျပ် K 5000

သက်သေထင်ရှားစိမ့်သောငှာ၊ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ( ၂၈ )ရက်၊ ဩဂုတ်လ၊ ၂၀၁၄ ခုနှစ်တွင် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

| (မြေငှားရမ်းသူ) | (မြေငှားချထားခြင်းခံရသူ) |
| --- | --- |
| ကိုယ်စားလက်မှတ်ရေးထိုးသူ | ကိုယ်စားလက်မှတ်ရေးထိုးသူ |
| ကျော်မြင့် | ချစ်ခိုင် |
| ဦးဆောင်ညွှန်ကြားရေးမှူး | ဥက္ကဋ္ဌ |
| မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | Denko Petrochemical Management Co., Ltd |

DENKO PETROCHEMICAL MANAGEMENT CO., LTD
No: ..............
Date: ..............

## အသိသက်သေများ

| | |
| --- | --- |
| အမည် - ဦးနီအောင် | အမည် - ဦးတင်ဝင်း |
| ရာထူး - အထွေထွေမန်နေဂျာ | ရာထူး - အထွေထွေမန်နေဂျာ |
| ဌာန - မြန်မာ့ဆိပ်ကမ်းအာဏာပိုင် | ဌာန - Denko Petrochemical Management Co., Ltd |

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၃၀ / ၂၀၁၄ ၂၀၁၄ ခုနှစ်၊ ဖေဖော်ဝါရီလ ၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးချစ်ခိုင်

(ခ) **အဘ အမည်** ဦးဘိုနီ

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/အစန(နိုင်)၀၇၈၂၆၃

(ဃ) **နေရပ်လိပ်စာ** အမှတ်(၁၀၀- F)၊ အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** B.O.T စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊သန်လျင်-ကျောက်တန်း မြို့နယ်၊ သီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ်(၁၇)/(၁၈-ဘီ)ရှိ မြေ(၂၄.၇၁)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၆၁၀၃၇.၁၄ သန်း ( အမေရိကန်ဒေါ်လာ ၃၆.၄၆ သန်း အပါအဝင် စုစုပေါင်းကျပ် ခြောက်သောင်း တစ်ထောင့် သုံးဆယ့် ခုနစ်သန်း နှင့် တစ်သိန်း လေးသောင်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၇ /၂၀၁၄ (မနသ)

၂၀၁၄ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်

၁။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါဆိပ်ကမ်းဒေသ၊ သန်လျင် - ကျောက်တန်းနယ်မြေရှိ မြေကွက်အမှတ် - ၁၇ ၊ ၁၈(ဘီ) မြေ (၂၄.၇၁) ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၅-၈-၂၀၁၃)နေ့ တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၁/၂၀၁၃) အစည်းအဝေးမှ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Denko Petrochemical Management Co., Ltd. (ဒန်ကို ရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)အား B.O.T စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၉၃၀/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

ကန့်သတ်

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း **ဆိပ်ခံတံတား တည်ဆောက်ရန်**အတွက် အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နှုတ်ပယ်ခွင့် နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလ ရင်းနှီးမြှုပ်နှံသည့် **ဆိပ်ခံတံတား** လုပ်ငန်းအတွက် ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကို ဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ် အပိုင်း၊ စက် အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ

အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြု လွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် နှင့် Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)တို့သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုပြီးဖြစ်သော ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ်ပါ စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်း အာဏာပိုင် နှင့် Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)တို့ ချုပ်ဆိုမည့် ပဋိညာဉ် စာချုပ် နှင့် မြေငှားစာချုပ်တို့ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅) စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလ နှစ် ၃၀ မှာ တည်ဆောက်ရေးကာလ စေ့ရောက်သည့်နေ့ (သို့မဟုတ်) တရားဝင်ဖွင့်လှစ်ခြင်း (Grand Opening) ပြုလုပ်သည့်နေ့ ထိုနေ့နှစ်ရပ်အနက် စောရာကာလမှ စတင်ရေတွက်ရမည် ဖြစ်သည်။

၉။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် မြေ အသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ကျပ် (၁၅၀)သိန်းနှုန်းဖြင့် စုစုပေါင်းကျပ်(၃၇၀.၆၅)သန်းကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ အောက်ပါအတိုင်းပေးချေရမည် -

(က) စာချုပ် လက်မှတ်ရေးထိုးပြီး တစ်လအတွင်း ကျပ် (၁၈၅.၃၂၅)သန်းကို ပထမအရစ် အဖြစ် ပေးသွင်းရန်၊

(ခ) စာချုပ် လက်မှတ် ရေးထိုးပြီး တစ်ဆယ့် နှစ်လအတွင်း ကျပ် (၁၈၅.၃၂၅)သန်း ကို ဒုတိယအရစ်အဖြစ် ပေးသွင်းရန်၊

၁၀။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် စက်သုံးဆီ တင်/ချ ဆိပ်ခံ တံတားနှင့် အထောက်အကူပြု အဆောက်အအုံများကို တည်ဆောက်ပြီးသည်နှင့် လုပ်ငန်းများ လုပ်ကိုင်ခွင့်အတွက် အောက်ဖော်ပြပါ နှုန်းထားများအတိုင်း လစဉ် မြေငှားရမ်းခအဖြစ် ကျပ် ၁၅.၀၄ သန်းကို အင်္ဂလိပ် လဆန်း ၇ ရက် မတိုင်မီ လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ အောက်ဖော်ပြပါအတိုင်း ပေးသွင်းရမည် -

| | |
|---|---|
| (က) စက်သုံးဆီတင်ဆိပ်ခံတံတားအတွက် မြေငှားရမ်းခ (၃.၁၂ ဧက x ၅၄၀,၅၄၀.၅၄ ကျပ်) | ကျပ် ၁,၆၈၆,၄၈၆ |
| (ခ) ကျောထောက်နောက်ခံ မြေနေရာအတွက် မြေငှားရမ်းခ (၂၄.၇၁ ဧက x ၅၄၀,၅၄၀.၅၄ ကျပ်) | ကျပ် ၁၃,၃၅၆,၇၅၇ |
| စုစုပေါင်းကျသင့်ငွေ | ကျပ် ၁၅,၀၄၃,၂၄၃ |

၁၁။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် ပေးဆောင်ရမည့် မြေငှားရမ်းခကို Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)မှ (၁၂-၆-၂၀၁၁) နေ့ အစည်းအဝေးတွင် တင်ပြထားသော စက်သုံးဆီများ တင်/ချ သိုလှောင်ခြင်းလုပ်ငန်းများ စတင်ဆောင်ရွက်ရန် လျာထားသည့် (၁-၁-၂၀၁၃) နေ့ မှ စတင်ပေးချေရမည်။

၁၂။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှု အတွက် အောက်ပါအတိုင်း တာဝန်ယူဆောင်ရွက်ရမည်-

(က) လုပ်ငန်း စီမံကိန်း နယ်မြေ နှင့် ၎င်းနယ်မြေတစ်ဝိုက်တွင် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး၊

(ခ) လေထု၊ ရေထုနှင့် မြေထုများ၊ ညစ်ညမ်းမှုနှင့် သဘာဝ ပတ်ဝန်းကျင် အခြေအနေ ယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရေး၊

(ဂ) လုပ်ငန်း စီမံကိန်းနေရာအား သဘာဝ ပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေ ဖြစ်အောင် ထိန်းသိမ်းနိုင်ရန်၊ ရေဆိုး နှင့် စွန့်ပစ်ပစ္စည်းများ ထိန်းသိမ်းသည့် စက်ကိရိယာများ တပ်ဆင်မှု အပါအဝင် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ရေး အတွက် လိုအပ်သော အစီအမံများကို ချမှတ်ဆောင်ရွက်ရမည်။

၁၃။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် ဘဏ်အာမခံကြေး အဖြစ် ရင်းနှီးမြှုပ်နှံမှု၏ (၁) ရာခိုင်နှုန်းကို ပဋိညာဉ် စာချုပ်ချုပ်ဆိုပြီး လေးဆယ့်ငါးရက်အတွင်း တရားဝင် ခွင့်ပြုထားသည့် အစိုးရဘဏ် တစ်ခုခုတွင် ထားရှိရမည်။ ဘဏ်အာမခံ သက်တမ်းသည် စတင် ထုတ်ပေးသည့် နေ့မှ (၂)နှစ် အထိ တည်ရှိ စေရမည်။

၁၄။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် မြေငှားစာချုပ် သက်တမ်း ကုန်ဆုံးချိန်(သို့မဟုတ်) စာချုပ်ရပ်စဲချိန်တွင် တပ်ဆင်ထားသော စက်ကိရိယာများ အပါအဝင် ဆောက်လုပ်ထားသည့် အဆောက်အအုံ တို့ကို ကောင်းမွန်စွာ အသုံးပြုနိုင်သည့် အနေအထားအတိုင်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ အဖိုးစား နားမဲ့ လွှဲပြောင်းပေးရမည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၆။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)မှ နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၀)၊ ပုဒ်မ ၁၉ (ဂ)ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စိစဉ်ဆောင်ရွက်ရမည်။

၁၇။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဇန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ ဆောင်ရွက်ရ မည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်း ဆောင် ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး) လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၉။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၀။ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံဓာတုဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၁။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၂။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၆(က) /မ-၁၃၂၀/၂၀၁၄( ၁၃၅၆ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဖေဖော်ဝါရီ လ 1 ရက်

ဖြန့်ဝေခြင်း

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

ပို့ဆောင်ရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့်လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

၈

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

အုပ်ချုပ်မှု ဒါရိုက်တာ ၊ Denko Petrochemical Management Co., Ltd. (ဒန်ကိုရေနံ ဓာတု ဗေဒ စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်)

DENKO PETROCHEMICAL MANAGEMENT Co., Ltd

# DRAFT FINAL REPORT

ON

# ENVIRONMENTAL IMPACT ASSESSMENT

AND

# SOCIAL IMPACT ASSESSMENT

FOR

# POL STORAGE AND PORT FACILITIES PROJECT

IN

# THILAWA SPECIAL ECONOMIC ZONE, YANGON REGION



**May, 2013**

*Submitted by:*


**National Engineering & Planning Services Co., Ltd, Myanmar**

*in association with*

**Norconsult, Norway**


*For*

**The Eleven Collective Companies of Myanmar Petroleum Trade Association**

*Comprising*

(1) Myat Myitta Mon, (2) Apex, (3) Shwe Taung, (4) Asia World, (5) Denko, (6) Thuria, (7) New Day, (8) IGE, (9) Shwe Than Lwin, (10) Kaung Myanmar and (11) Padauk Shwewar

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၁၇ (၂) / စီးပွား
ရက် စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်

သို့

သတ္တုတွင်းဝန်ကြီးဌာန
နေပြည်တော်

စွမ်းအင်ဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ **ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် အနာဂတ် LPG သိုလှောင်ကန်များတည်ဆောက်၍ စက်သုံးဆီများအားသိုလှောင်ဖြန့်ဖြူးသည့်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ**

၁။ ရန်ကုန်တောင်ပိုင်းခရိုင်၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ်(၁၇၊၁၈)(ဘီ)၊ ဧရိယာ(၂၄. ၇၁)ဧကတွင် ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် အနာဂတ် LPG သိုလှောင်ကန်များတည်ဆောက်၍ စက်သုံးဆီများအားသိုလှောင်ဖြန့်ဖြူးသည့်ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ခွင့်ပြုပါရန် ဇေင်ကုမ္ပဏီအုပ်စုက တင်ပြခြင်းအပေါ် ရန်ကုန်တိုင်းဒေသကြီးရေနံထွက်ပစ္စည်းများတင်သွင်းသိုလှောင် သယ်ယူဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများထိန်းသိမ်းကြီးကြပ်ရေးဆပ်ကော်မတီမှ ကွင်းဆင်းစိစစ်ပြီး သတ်မှတ်စံချိန်စံညွှန်း၊ ဒီဇိုင်းပုံစံများအတိုင်း သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့် အညီဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံတင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ ဇေင်ကုမ္ပဏီအုပ်စုမှ အထက်ဖော်ပြပါနေရာ၌ ဓာတ်ဆီ၊ ဒီဇယ်ဆီနှင့် အနာဂတ် LPG သိုလှောင်ကန်များတည်ဆောက်၍ စက်သုံးဆီများအားသိုလှောင်ဖြန့်ဖြူးသည့်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ၁၃-၁၂-၂၀၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၄၇/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၃)အရ ကန့်ကွက်ရန်မရှိကြောင်း ညှိနှိုင်းအကြောင်းကြားပါသည်။

၁၈၊၁၂/၂၀၁၂

ဝန်ကြီးချုပ် (ကိုယ်စား)
(ကျော်စိုး၊ တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး)

**မိတ္တူ**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်တိုင်းဒေသကြီးမြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ကျောက်တန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ဇေင်ကုမ္ပဏီအုပ်စု
လက်ခံစာတွဲ/မျှောစာတွဲ

D/Su-3/ASW/OIL/Pg;132

# သီလဝါ

| စဉ် | အကြောင်းအရာ | အရေအတွက် | မှတ်ချက် |
|---|---|---|---|
| ၁ | ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံစာ | ၁ | ရွက် |
| ၂ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့် | ၁ | စုံ |
| ၃ | မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့်ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်နှင့် မြေငှားစာချုပ် | ၁ | အုပ် |
| ၄ | EIA, SIA Final Report (CD) | ၁ | ချပ် |

ပူးတွဲ (၁)

# သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြပုံ



ပူးတွဲ - (၂)




မှတ်ချက် ။ ဆိပ်ခံတံတား ၂ ခုတည်ဆောက်ပြီးစီးသည့်အခါ ဆိပ်ခံအလျား ၂၆၆ မီတာဖြစ်ပါသည်။

Note:

Levels of Ground (Land) and Soundings of Foreshore Bank Profiles & River Bed are reduced to Chart Datum 0.0 m. (Zero Tide Gauge) Levels & Soundings are in Meter units.

0 10 20 30 40 METER

NOTE: ALL DIMENSIONS IN METERS.

YANGON RIVER

Reference Drawing 01 - D.O PORT (T) (E)

PROPOSED DIESEL OIL PORT TERMINAL

THILAWA FORESHORE PLOTS (17 & 18) BERTHING FACILITIES

R.C FIXED JETTY OF EDEN Co.,Ltd.

SITE PLAN

| Title | Design by | Approval | File | Dwg. No. | sht |
|---|---|---|---|---|---|
| Title : Thilawa Port Plots (17) & (18) Diesel Oil Port Terminal, Eden Co., Ltd. R.C Fixed Jetty - Site Plan | C.E | C.E 8.10.12 | C D E | 02-D.O.Port (T) (E) | 1/1 |

## PROPOSED DIESEL OIL PORT TERMINAL AT THILAWA FORESHORE PLOTS (17 & 18) BERTHING FACILITIES

## R.C FIXED JETTY OF EDEN Co.,Ltd.

### SIDE ELEVATION

ပူးတွဲပုံ-(၇)




SIDE ELEVATION (QUAY APRON & TRESTLE) (Installations of Pipe Lines and High Mast Lighting are omitted)

Reference : Drawings 03 - D.O PORT (T)(E) & 04 - D.O PORT (T)(E).

| Title | Designed by | Approval | File | Dwg. No. | Sheet |
|---|---|---|---|---|---|
| Title : Thilawa Port Plots (17) & 18 Diesel Oil Port Terminal,Eden Co.,Ltd. R.C Fixed Jetty - Side Elevation from Downstream Side | CE | CE - 8.10.2012 | CDE | 07-D.O.Port (T) (E) | 1/1 |




FOOTING OT-6000 PLAN

SCALE 1:100




FOOTING OT-6000 SECTION

ပူးတွဲပုံ (၅)

PROPOSED DIESEL OIL PORT TERMINAL

THILAWA FORESHORE PLOTS (17 & 18) BERTHING FACILITIES

R.C FIXED JETTY OF EDEN Co.,Ltd.

POSSIBLE POSITION OF VESSEL BERTHING




Reference Drawing : 03 - D.O Port (T) (E)

**NOTE:**

Berth for Diesel Oil Tanker of 10000 DWT, LOA 130 M , Full Load Draft 8 M

and Berth for Diesel Oil Tanker of 20000 DWT, LOA 171 M, Full Load Draft 9.8 M, in future.

0 10 20 30 40 METER

| Title | Design by | Approval | File | Dwg. No. | sht |
|---|---|---|---|---|---|
| Title : Thilawa Port Plots (17) & (18) Diesel Oil Port Terminal, Eden Co., Ltd. Possible Position of Vessel Berthing | C.E | C.E 6.10.12 | C D E | 05-D.O.Port (T) (E) | 1/1 |




FOOTING OT-9000 PLAN




FOOTING OT-9000 SECTION

ပူးတွဲ (၁)

# သီလဝါဆိပ်ကမ်း ဖွံ့ဖြိုးရေးစီမံကိန်း တည်နေရာပြပုံ



